# ပြည်ထောင်စု မြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ ရက-၁/မ-၁၂၂၆/ ၂၀၀၁(၅၄၃-၈)။
ရက်စွဲ၊ ၂၀၀၁ ခုနှစ်၊ မေလ ၂ ရက်။

## ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့သို့ တင်ပြသည့်အမှာစာ

အကြောင်းအရာ။ မွေးမြူရေးနှင့် ရေလုပ်ငန်း ဝန်ကြီးဌာန၊ ငါးလုပ်ငန်းဦးစီးဌာနပိုင်မြေတွင် အရှေ့တိုင်းစွမ်းအား အပြည်ပြည်ဆိုင်ရာ လီမိတက်မှ တန် (၃၀၀)ဆန့် အအေးခန်းစက်ရုံ တည်ဆောက်၍ သန့်ရှင်းလတ်ဆတ်သော ငါး၊ ပုစွန်များ ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်းနှင့် တန် (၁၀၀)ကျ ရေခဲစက်တည်ဆောက်၍ ရေခဲထုတ်လုပ်ခြင်းလုပ်ငန်း၊ ငါးကုန်တင်ကုန်ချခြင်းလုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်း ကိစ္စ။

၁။ မွေးမြူရေးနှင့် ရေလုပ်ငန်း ဝန်ကြီးဌာန၊ ငါးလုပ်ငန်းဦးစီးဌာနပိုင်မြေတွင် အရှေ့တိုင်းစွမ်းအား အပြည်ပြည်ဆိုင်ရာ လီမိတက် (Eastern Power International Ltd.) မှ တန် (၃၀၀)ဆန့် အအေးခန်းစက်ရုံတည်ဆောက်၍ သန့်ရှင်းလတ်ဆတ်သော ငါး၊ ပုစွန်များ ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်းနှင့် တန် (၁၀၀)ကျ ရေခဲစက်တည်ဆောက်၍ ရေခဲထုတ်လုပ်ခြင်းလုပ်ငန်း၊ ငါးကုန်တင်ကုန်ချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ရန် အဆိုပြု တင်ပြလာပါသည်။ ယင်းအဆိုပြုချက်ကို (၂၅-၁-၂၀၀၁)နေ့တွင် ကျင်းပ ပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၄/၂၀၀၁) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ယင်းအစည်းအဝေးမှ လုပ်ငန်း ဆောင်ရွက်ရန် မူအားဖြင့် သဘောတူပြီး၊ ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ ဆက်လက် တင်ပြရန် ဆုံးဖြတ်ခဲ့ပါသည်။ ယင်းဆုံးဖြတ်ချက်အရ (၂၂-၃-၂၀၀၁) နေ့တွင် ကျင်းပ ပြုလုပ်ခဲ့သည့် ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ (၂/၂၀၀၁) အစည်းအဝေးသို့ တင်ပြခဲ့ရာ မူအားဖြင့် သဘောတူပြီး အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက်အရ တင်ပြခြင်းဖြစ်ပါသည်။ အဆိုပြုချက်နှင့်အတူ ရွှေဆိုင်းငွေပေးချေခြင်းစနစ် သဘောတူ စာချုပ် (မူကြမ်း)၊ မြေငှား သဘောတူစာချုပ် (မူကြမ်း)နှင့် ရှေ့နေချုပ်ရုံး သဘောထားမှတ်ချက်တို့ကို နောက်ဆက်တွဲ(၁) အဖြစ် ပေးပို့ထားပါသည်။

၂။ ယင်းလုပ်ငန်း၏ မတည်ငွေရင်း ပမာဏမှာ အမေရိကန်ဒေါ်လာ (၀.၆၂)သန်း အပါအဝင် စုစုပေါင်းကျပ် (၂၄၃.၉၈)သန်း ဖြစ်ပါသည်။ စက်ပစ္စည်းကိရိယာများကို မလေးရှားနိုင်ငံ Haisan Sdn Bhd. မှရွှေဆိုင်းငွေပေးချေခြင်း စနစ်ဖြင့် ရယူမည်ဖြစ်ပြီး တစ်နှစ်လျှင် အတိုးနှုန်း (၅)ရာခိုင်နှုန်းဖြင့် (၄)နှစ်အတွင်း ပြန်လည်ပေးဆပ်ရမည် ဖြစ်ပါသည်။

၃။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန် အတွက် မွေးမြူရေးနှင့် ရေလုပ်ငန်း ဝန်ကြီးဌာန၊ ငါးလုပ်ငန်း ဦးစီးဌာနပိုင် မြေတိုင်းရပ်ကွက်အမှတ် (၂/၂)၊ အနောက်ကြို့ကုန်းရပ်ကွက်၊ အင်းစိန်မြို့နယ်၊ ရန်ကုန်တိုင်း ရှိမြေ (၂.၉၇) ဧက (၁၂၀၁၉.၁၇ စတုရန်းမီတာ) ကို ငှားရမ်း၍ လုပ်ငန်းဆောင်ရွက်မည် ဖြစ်ပါသည်။

၄။ ယင်းလုပ်ငန်း ဆောင်ရွက်ရန်အတွက် မွေးမြူရေးနှင့် ရေလုပ်ငန်း ဝန်ကြီးဌာန၊ ငါးလုပ်ငန်း ဦးစီးဌာနနှင့် အရှေ့တိုင်းစွမ်းအား အပြည့်ပြည့်ဆိုင်ရာ လီမိတက်တို့ ချုပ်ဆိုမည့် မြေငှားစာချုပ်ပါ အဓိက အချက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်--

(က) မြေငှားရမ်းခြင်းသက်တမ်းကာလမှာ ကနဦး အနှစ် (၂၀)နှစ်နှင့် နောက်ထပ် (၅)နှစ် (၂)ကြိမ် ငှားရမ်းခွင့်ရှိပါသည်၊

(ခ) မြေငှားရမ်းခအဖြစ် တစ်နှစ်လျှင် တစ်စတုရန်းမီတာကို ကျပ် (၄၅၀)နှုန်းဖြင့် ကျပ် (၅.၄၁)သန်းကို နှစ်စဉ်ပြက္ခဒိန်နှစ်အလိုက် သက်ဆိုင်ရာ နှစ်၏ ပထမလ၏ (၇)ရက်အတွင်း ငါးလုပ်ငန်း ဦးစီးဌာနသို့ ကြိုတင်ပေးချေရမည် ဖြစ်ပါသည်၊

(ဂ) ငှားရမ်းခနှုန်းထားများကို (၅)နှစ်တစ်ကြိမ် ပြန်လည်စိစစ်သုံးသပ်ခွင့်နှင့် ယင်းသို့ပြန်လည် စိစစ်ရာတွင် ပြီးခဲ့သော(၅)နှစ်ကာလ၏ နှစ်စဉ်ငှားရမ်းခနှုန်းထား၏(၁၅)ရာခိုင်နှုန်း ထက်မပို စေရန် ဖြစ်ပါသည်၊

(ဃ) ငှားရမ်းကာလ ကုန်ဆုံးသည့်အခါ ကုန်ဆုံးရပ်စဲသည့်နေ့မှ (၃)လအတွင်း မြေပေါ်ရှိ အဆောက်အဦ အပါအဝင် ယင်းနှင့်ဆက်စပ်နေသော ပစ္စည်းများအားလုံးကို ကောင်းမွန်စွာ ပုံမှန်အသုံးပြုနိုင်သည့် အခြေအနေအတိုင်း အဖိုးအခ တောင်းခံခြင်းမရှိဘဲ ပြန်လည် လွှဲပြောင်း ပေးအပ်ရမည် ဖြစ်ပါသည်။

၅။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရာတွင် အအေးခန်းနှင့် ရေခဲစက်လုပ်ငန်းမှ ငါး၊ ပုစွန်များကို ပြည်ပသို့ (၁၀၀) ရာခိုင်နှုန်း တင်ပို့ရောင်းချ၍ ရေခဲကို ပြည်တွင်းတွင် (၁၀၀) ရာခိုင်နှုန်း ရောင်းချမည်ဖြစ်ပါသည်။ ပုံမှန်နှစ်ရှိ ထုတ်လုပ်မှု၊ ဝန်ဆောင်မှုများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်--

| စဉ် | အကြောင်းအရာ | ရေတွက်ပုံ | ထုတ်လုပ်မှု/ ဝန်ဆောင်မှု |
|---|---|---|---|
| | ထုတ်လုပ်မှု | | |
| ၁ | Fresh Water Fish | MT | ၂၈၄ |
| ၂ | Sea Water Fish | MT | ၁၉၃ |
| ၃ | White Prawn | MT | ၃၂ |
| ၄ | Tiger Prawn | MT | ၃၃ |
| ၅ | Pink Prawn | MT | ၃၅ |
| ၆ | Ice (300 Lb) | Block | ၁၂၄၀၀၀ |
| | ဝန်ဆောင်မှု | | |
| ၁ | ငါး၊ ပုစွန်အေးခဲခြင်း | MT | ၁၂၉၈၀ |
| ၂ | ငါးကုန်တင်ကုန်ချခြင်း | Viss | ၂၇၃၆၀ |

၆။ ယင်းလုပ်ငန်း၏ အရင်းကြေကာလမှာ (၃)နှစ်နှင့် (၁၁)လဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) မှာ (၂၁.၈၅)ရာခိုင်နှုန်း ဖြစ်ပါသည်။

၇။ ယင်းလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်–

| | | | |
|---|---|---|---|
| (က) | ဝင်ငွေခွန် | ကျပ် | ၁၅.၇၇ သန်း |
| | | အမေရိကန်ဒေါ်လာ | ၀.၂၅ သန်း |
| (ခ) | ကုန်သွယ်လုပ်ငန်းခွန် | ကျပ် | ၁၂.၂၂ သန်း |
| | | အမေရိကန်ဒေါ်လာ | ၀.၁၈ သန်း |
| (ဂ) | မြေငှားရမ်းခရငွေ | ကျပ် | ၅.၄၁ သန်း |

၈။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် ပြည်တွင်းမှ ဝန်ထမ်း (၂၃၂)ဦး နှင့် ပြည်ပမှ ဝန်ထမ်း (၂)ဦး ခန့်ထား ဆောင်ရွက်မည် ဖြစ်ပါသည်။

၉။ ယင်းလုပ်ငန်းနှင့် စပ်လျဉ်း၍ ပိုင်ဆိုင်မှု၊ ပတ်ဝန်းကျင် ထိန်းသိမ်းမှုနှင့် ချေးငွေရယူမှုတို့အတွက် ဝန်ခံကတိများ ပြုထားပါသည်။

၁၀။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ ၁၂ အရ စီးပွားရေးလုပ်ငန်း စတင်သောနှစ်အပါအဝင် တင်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ပေးရမည် ဖြစ်ပါသည်။ ဥပဒေပုဒ်မ ၁၃ အရ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များအနက် လုပ်ငန်းနှင့် သက်ဆိုင်သည့် အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် ကော်မရှင်မှ ညှိနှိုင်း ဆုံးဖြတ်ခဲ့ ပါသည်။

၁၁။ ဆုံးဖြတ်ရန်အချက်။

(က) မွေးမြူရေးနှင့် ရေလုပ်ငန်း ဝန်ကြီးဌာန၊ ငါးလုပ်ငန်းဦးစီးဌာနပိုင်မြေတွင် အရှေ့တိုင်းစွမ်းအား အပြည်ပြည်ဆိုင်ရာ လီမိတက်မှ တန် (၃၀၀)ဆန့် အအေးခန်းစက်ရုံဘည်ဆောက်၍ သန့်ရှင်းလတ်ဆတ်သော ငါး၊ ပုစွန်များ ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်းနှင့် တန် (၁၀၀)ကျ ရေခဲစက်တည်ဆောက်၍ ရေခဲထုတ်လုပ်ခြင်းလုပ်ငန်း၊ ငါးကုန်တင်ကုန်ချခြင်းလုပ်ငန်း ဆောင်ရွက် ရန် အဆိုပြု တင်ပြခြင်းကို ခွင့်ပြုရန် သဘောတူ–မတူ။

(ခ) လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် သဘောတူပါက မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် သဘောတူ–မတူ။

# ပြည်ထောင်စု မြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ ရက-၁/မ-၁၂၂၉/ ၂၀၀၀ (၃၄၇၂-၈)။
ရက်စွဲ၊ ၂၀၀၁ ခုနှစ်၊ ဖေဖေါ်ဝါရီလ ၁ ရက်။

## ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ တင်ပြသည့်
## အမှာစာ

အကြောင်းအရာ။ မွေးမြူရေးနှင့် ရေလုပ်ငန်း ဝန်ကြီးဌာန၊ ငါးလုပ်ငန်းဦးစီးဌာနပိုင်မြေတွင် အရှေ့တိုင်းစွမ်းအား အပြည်ပြည်ဆိုင်ရာ လီမိတက်မှ တန် (၃၀၀)ဆန့် အအေးခန်းစက်ရုံ တည်ဆောက်၍ သန့်ရှင်းလတ်ဆတ်သော ငါး၊ ပုစွန်များ ပြုပြင်ထုတ်လုပ်ခြင်း လုပ်ငန်းနှင့် တန် (၁၀၀)ကျ ရေခဲစက်တည်ဆောက်၍ ရေခဲထုတ်လုပ်ခြင်းလုပ်ငန်း၊ ငါးကုန်တင်ကုန်ချခြင်းလုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်း ကိစ္စ။

၁။ မွေးမြူရေးနှင့် ရေလုပ်ငန်း ဝန်ကြီးဌာန၊ ငါးလုပ်ငန်းဦးစီးဌာနပိုင်မြေတွင် အရှေ့တိုင်းစွမ်းအား အပြည်ပြည်ဆိုင်ရာ လီမိတက် (Eastern Power International Ltd.) မှ တန် (၃၀၀)ဆန့် အအေးခန်းစက်ရုံတည်ဆောက်၍ သန့်ရှင်းလတ်ဆတ်သော ငါး၊ ပုစွန်များ ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်းနှင့် တန် (၁၀၀)ကျ ရေခဲစက်တည်ဆောက်၍ ရေခဲထုတ်လုပ်ခြင်းလုပ်ငန်း၊ ငါးကုန်တင်ကုန်ချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ရန် အဆိုပြု တင်ပြလာပါသည်။ ယင်းအဆိုပြုချက်ကို (၂၅-၁-၂၀၀၁)နေ့တွင် ကျင်းပ ပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၄/၂၀၀၁) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ယင်းအစည်းအဝေးမှ လုပ်ငန်း ဆောင်ရွက်ရန် မူအားဖြင့် သဘောတူပြီး၊ ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ ဆက်လက် တင်ပြရန် ဆုံးဖြတ်ချက်အရ တင်ပြခြင်းဖြစ်ပါသည်။ အဆိုပြုချက်နှင့်အတူ ရှေ့ဆိုင်းငွေပေးချေခြင်း စနစ် သဘောတူစာချုပ် (မူကြမ်း)၊ မြေငှား သဘောတူစာချုပ် (မူကြမ်း)နှင့် ဇုရှနေချုပ်ရုံး သဘောထားမှတ်ချက်တို့ကို နောက်ဆက်တွဲ(၁) အဖြစ် တင်ပြထားပါသည်။

၂။ ယင်းလုပ်ငန်း၏ မတည်ငွေရင်း ပမာဏမှာ အမေရိကန်ဒေါ်လာ (၀.၆၂)သန်း အပါအဝင် စုစုပေါင်း ကျပ် (၂၄၉.၉၈)သန်း ဖြစ်ပါသည်။ ယင်းတွင်ငွေသား ကျပ် (၁၀၀.၀၀)သန်း၊ အဆောက်အဦတန်ဖိုး ကျပ် (၉၈.၂၇)သန်း၊ စက်ပစ္စည်းကိရိယာ တန်ဖိုး ကျပ် (၃.၇၁)သန်း {အမေရိကန်ဒေါ်လာ (၀.၆၂)သန်း}၊ ဆိပ်ခံတံတားတန်ဖိုး ကျပ် (၇၈.၀၀)သန်း ထည့်ဝင် ရင်းနှီးမည် ဖြစ်ပါသည်။ စက်ပစ္စည်းကိရိယာများကို မလေးရှားနိုင်ငံ Haisan Sdn Bhd. မှရှေ့ဆိုင်းငွေပေးချေခြင်း စနစ်ဖြင့် ရယူမည်ဖြစ်ပြီး တစ်နှစ်လျှင် အတိုးနှုန်း (၅)ရာခိုင်နှုန်းဖြင့် (၄)နှစ်အတွင်း ပြန်လည်ပေးဆပ်ရမည် ဖြစ်ပါသည်။

၃။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန် အတွက် မွေးမြူရေးနှင့် ရေလုပ်ငန်း ဝန်ကြီးဌာန၊ ငါးလုပ်ငန်း ဦးစီးဌာနပိုင် မြေတိုင်းရပ်ကွက်အမှတ် (၂/၂)၊ အနောက်ကြို့ကုန်းရပ်ကွက်၊ အင်းစိန်မြို့နယ်၊ ရန်ကုန်ကိုင်း ရှိမြေ (၂.၉၇) ဧက (၁၂၀၁၉.၁၇ စတုရန်းမီတာ) ကို ငှားရမ်း၍ လုပ်ငန်းဆောင်ရွက်မည် ဖြစ်ပါသည်။

၄။ ယင်းလုပ်ငန်း ဆောင်ရွက်ရန်အတွက် မွေးမြူရေးနှင့် ရေလုပ်ငန်း ဝန်ကြီးဌာန၊ ငါးလုပ်ငန်း ဦးစီးဌာနနှင့် အရှေ့တိုင်းစွမ်းအား အပြည်ပြည်ဆိုင်ရာ လီမိတက်တို့ ချုပ်ဆိုမည့် မြေငှားစာချုပ်ပါ အဓိက အချက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) မြေငှားရမ်းခြင်းသက်တမ်းကာလမှာ ကနဦး အနှစ် (၂၀)နှစ်နှင့် နောက်ထပ် (၅)နှစ် (၂)ကြိမ် ငှားရမ်းခွင့်ရှိပါသည်၊

(ခ) မြေငှားရမ်းခအဖြစ် တစ်နှစ်လျှင် တစ်စတုရန်းမီတာကို ကျပ် (၄၅၀)နှုန်းဖြင့် ကျပ် (၅.၄၁)သန်းကို နှစ်စဉ်ပြက္ခဒိန်နှစ်အလိုက် သက်ဆိုင်ရာ နှစ်၏ ပထမလ၏ (၇)ရက်အတွင်း ငါးလုပ်ငန်း ဦးစီးဌာနသို့ ကြိုတင်ပေးချေရမည် ဖြစ်ပါသည်၊

(ဂ) ငှားရမ်းခနှုန်းထားများကို (၅)နှစ်တစ်ကြိမ် ပြန်လည်စိစစ်သုံးသပ်ခွင့်နှင့် ယင်းသို့ပြန်လည် စိစစ်ရာတွင် ပြီးခဲ့သော(၅)နှစ်ကာလ၏ နှစ်စဉ်ငှားရမ်းခနှုန်းထား၏(၁၅)ရာခိုင်နှုန်း ထက်မပို စေရန် ဖြစ်ပါသည်၊

(ဃ) ငှားရမ်းကာလ ကုန်ဆုံးသည့်အခါ ကုန်ဆုံးရပ်စဲသည့်နေ့မှ (၃)လအတွင်း မြေပေါ်ရှိ အဆောက်အဦ အပါအဝင် ယင်းနှင့်ဆက်စပ်နေသော ပစ္စည်းများအားလုံးကို ကောင်းမွန်စွာ ပုံမှန်အသုံးပြုနိုင်သည့် အခြေအနေအတိုင်း အဖိုးစားနားမပါရှိဘဲ ပြန်လည် လွှဲပြောင်း ပေးအပ်ရမည် ဖြစ်ပါသည်။

၅။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရာတွင် အအေးခန်းနှင့် ရေခဲစက်လုပ်ငန်းမှ ငါး၊ ပုစွန်များကို ပြည်ပသို့ (၁၀၀) ရာခိုင်နှုန်း တင်ပို့ရောင်းချ၍ ရေခဲကို ပြည်တွင်းတွင် (၁၀၀) ရာခိုင်နှုန်း ရောင်းချမည်ဖြစ်ပါသည်။ ပုံမှန်နှစ်ရှိ ထုတ်လုပ်မှု၊ ဝန်ဆောင်မှုနှင့် ရောင်းဈေးနှုန်း၊ ဝန်ဆောင်ခနှုန်း များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အကြောင်းအရာ | ရေတွက်ပုံ | ထုတ်လုပ်မှု/ | ရောင်းဈေးနှုန်း/ဝန်ဆောင်ခ | |
|---|---|---|---|---|---|
| | | | ဝန်ဆောင်မှု | ပြည်တွင်း(ကျပ်) | ပြည်ပ (US$) |
| | ထုတ်လုပ်မှု | | | | |
| ၁ | Fresh Water Fish | MT | ၂၈၄ | - | ၂၃၀၀ |
| ၂ | Sea Water Fish | MT | ၁၉၃ | - | ၁၉၂၀ |
| ၃ | White Prawn | MT | ၃၂ | - | ၈၄၀၀ |
| ၄ | Tiger Prawn | MT | ၃၃ | - | ၉၆၀၀ |
| ၅ | Pink Prawn | MT | ၃၅ | - | ၆၀၀၀ |
| ၆ | Ice (300 Lb) | Block | ၂၂၄၀၀၀ | ၆၀၀ | - |
| | ဝန်ဆောင်မှု | | | | |
| ၁ | ငါး၊ ပုစွန်အေးခဲခြင်း | MT | ၂၂၉၈၀ | ၂၁၆၀၀ | - |
| ၂ | ငါးကုန်တင်ကုန်ချခြင်း | Viss | ၂၇၃၆၀ | ၆.၂၀ | - |

၆။ ယင်းလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(ကျပ်သန်း)

| | | ပြည်တွင်း | နိုင်ငံခြား | စုစုပေါင်း |
|---|---|---|---|---|
| (က) | ဝင်ငွေ | ၈၀၀,၄၀ | ၁၀,၉၂ | ၈၁၁,၃၂ |
| (ခ) | အသုံးစရိတ် | ၇၆၃.၆၀ | ၂.၅၇ | ၇၆၆.၁၇ |
| (ဂ) | အသားတင်အမြတ် | ၃၆.၈၀ | ၈.၃၅ | ၄၅.၁၅ |

၇။ ယင်းလုပ်ငန်း၏ အရင်းကြေကာလမှာ (၃)နှစ်နှင့် (၁၁)လဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ (၂၁.၈၅)ရာခိုင်နှုန်း ဖြစ်ပါသည်။

၈။ ယင်းလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | | |
|---|---|---|---|
| (က) | ဝင်ငွေခွန် | ကျပ် | ၁၅.၇၇ သန်း |
| | | အမေရိကန်ဒေါ်လာ | ၀,၂၅ သန်း |
| (ခ) | ကုန်သွယ်လုပ်ငန်းခွန် | ကျပ် | ၁၂.၂၂ သန်း |
| | | အမေရိကန်ဒေါ်လာ | ၀,၁၈ သန်း |
| (ဂ) | မြေငှားရမ်းခရငွေ | ကျပ် | ၅.၄၁ သန်း |

၉။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် ပြည်တွင်းမှ ဝန်ထမ်း (၂၃၂)ဦး နှင့် ပြည်ပမှ ဝန်ထမ်း (၂)ဦး ခန့်ထား ဆောင်ရွက်မည် ဖြစ်ပါသည်။

၁၀။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး၊ နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိကြောင်း၊ ပြည်ပသို့ တင်ပို့ရောင်းချရန် ဈေးကွက်ရှိပြီးဖြစ်ကြောင်း၊ မြေယာနှင့် ပတ်သက်၍ နိုင်ငံတော်မှ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာ ဆောင်ရွက်မည်ဖြစ်ကြောင်း၊ ဈေးငွေရယူခြင်းသည် နိုင်ငံတော်နှင့် သက်ဆိုင်ခြင်း မရှိဘဲ ဈေးယူသူ၏ တာဝန်သာဖြစ်ကြောင်း၊ ပြန်လည်ပေးဆပ်ရာတွင်လည်း လုပ်ငန်းမှ ရရှိသော တရားဝင် နိုင်ငံခြားငွေဖြင့်သာ ပေးဆပ်မည်ဖြစ်ကြောင်း၊ ပတ်ဝန်းကျင် ညစ်ညမ်းမှု နှင့် မီးဘေးအန္တရာယ်များ မဖြစ်ပွားစေရန် အတွက် လိုအပ်သော အစီအမံများ ကြိုတင် ကာကွယ်မှုများ ပြုလုပ်ဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ စက်ရုံတွင် အန္တရာယ်ကင်းရှင်းစေသော အမိုးနီးယားဓါတ်ငွေ့သုံး ခေတ်မီစက်အသစ်များကိုသာ သုံးစွဲဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ Waste Water Treatment Plant တပ်ဆင် အသုံးပြုမည် ဖြစ်ပါကြောင်းနှင့် ယင်းလုပ်ငန်းသည် လုပ်ငန်းအသစ် ဖြစ်ကြောင်း ပန်ခံကတိ ပြုထားပါသည်။

၁၁။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ ၁၂ အရ စီးပွားရေးလုပ်ငန်း စတင်သောနှစ်အပါအဝင် တစ်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ပေးရမည် ဖြစ်ပါသည်။

ကုမ္ပဏီ ဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာ စာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/အစုရှင်များ၏ အမည် | ဒါရိုက်တာ/အစုရှင်များ၏ လိပ်စာ |
|---|---|---|---|
| ၁။ | အရှေ့ကိုင်းစွမ်းအား အပြည်ပြည်ဆိုင်ရာ လီမိတက် (Eastern Power International Ltd.) | ၁။ ဦးရဲမြင့် (MD) | အမှတ် (၅၂)၊ ဗိုလ်ချုပ်အောင်ဆန်းလမ်း ၊ ပုဇွန်တောင်မြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၂။ ဦးကျော်ဌေး (Dir) | အမှတ် (၃၉)၊ (၁၁) လမ်း ၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၃။ ဦးဂန်းဝင်း (Dir) | အမှတ် (၃၃)၊ (၂၂) လမ်း ၊ လသာမြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၄။ ဦးသိန်းဝင်းဇော် (Dir) | အမှတ် (၁၀)၊ ရတနာမွန် (၃) လမ်း ၊ (၄) ရပ်ကွက်၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၅။ ဒေါ်တင်မာစိမ်း (Dir) | အမှတ် (၃၂)၊ (၄၉) လမ်း ၊ ဗိုလ်တထောင်မြို့နယ်၊ ရန်ကုန်မြို့။ |

၅/၂၀၀၁ MIC



လုပ်ငန်း စီမံကိန်း အဆိုပြုချက်၏ အဓိကအချက်များ
(မြန်မာနိုင်ငံသား များ ရင်းနှီး မြှုပ်နှံမှုဥပဒေအရ)

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | အရှေ့တိုင်း စွမ်းအား အပြည်ပြည်ဆိုင်ရာလီမိတက် ( Eastern Power International Ltd. ) (၂၃-၁၁-၉၇ ခုနှစ်တွင်မှတ်ပုံတင်ပြီး ) |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | ဦး ရဲမြင့် |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုး အစား | တန်(၃၀၀)သန့်အအေး ခန်း စက်ရုံတည် ဆောက်၍ သန့်ရှင်း လတ်ဆတ် သော ငါး၊ ပုစွန်များ ပြုပြင်ထုတ်လုပ်ခြင်း လုပ်ငန်းနှင့်တန်(၁၀၀)ကျ ရေခဲစက် တည် ဆောက်၍ ရေခဲထုတ်လုပ်ခြင်းလုပ်ငန်း၊ ငါး၊ ကုန်တင်ကုန် ချခြင်းလုပ်ငန်း ။ |
| ၄။ | တည်နေရာ | မြေတိုင်းရပ်ကွက်အမှတ်၊ ၂/၂၊ အနောက်ကြို့ကုန်း ရပ်ကွက်၊ အင်းစိန်မြို့နယ်၊ ရန်ကုန်တိုင်း ။ |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | ကျပ် ၂၄၉.၉၀သန်း(US$ ၀.၆၂သန်းအပါအဝင်) |
| | - ငွေပမာဏ | ကျပ် ၁၀၀.၀၀သန်း |
| | - အဆောက်အဦ | ကျပ် ၉၀.၂၇သန်း |
| | - စက်ပစ္စည်းကိရိယာ | ကျပ် ၃.၇၁သန်း(US$ ၀.၆၂သန်း ) |
| | - ဆိပ်ခံတံတား | ကျပ် ၄၀.၀၀သန်း |
| ၆။ | မြေအကြောင်း အရာ | |
| | - မြေအကျယ်အဝန်း | (၂.၉၇)ဧက(၁၂၀၁၉.၁၇စတုရန်းမီတာ) |
| | - မြေပိုင်ဆိုင်မှု | မွေးမြူရေးနှင့် ရေလုပ်ငန်းဝန်ကြီးဌာန၊ငါးလုပ်ငန်း ဦးစီး ဌာနပိုင် မြေ။ |
| | - မြေအမျိုး အစား | နိုင်ငံပိုင် မြေ |
| | - မြေငှား ရမ်း ကာလ | ကနဦး နှစ်(၂၀)ဖြစ်ပြီး နောက်ထပ်(၅)နှစ် (၂)ကြိမ်တိုး မြှင့်ခွင့် |
| | - မြေငှား ရမ်း ခ | ကျပ် ၅.၄၁သန်း(တစ်နှစ်တစ်စတုရန်းမီတာ ရှင်ကျပ်၄၅၀နှုန်း ) |